ဤစာအုပ်သည် ----------------------

၏စာအုပ်ဖြစ်ပါသည်။

This book is of ....................................




မြင့်မိုရ်မေမေစာပေ

အမှတ်- ၁၂၉၉၊ အောင်သုခ (၂၇) လမ်း၊ (၆) အရှေ့ရပ်ကွက်၊

သာကေတမြို့နယ်၊ ရန်ကုန်မြို့။ ဖုန်း ၀၉ - ၅၀၂၉၃၃၆-၀၉၄၂၀၀၄၄၆၈၄

Myint Moh May May Literature

No.(1299),Aung Thu Ka 27 Street,(6) East Quarter,

Tharkayta Township, Yangon.Ph: 095029336-09420044684

**စီစဉ်သူ**
မောင်မျိုး (မြင့်မိုရ်မေမေစာပေ)

**ဇာတ်ညွှန်း**
ကိုသုခ

**ဘာသာပြန်**
ဦးလှကြွယ်

**ပန်းချီ**
မျိုးမာန်

**မျက်နှာဖုံးပန်းချီ**
သိန်းရွှေကြည်

**အတွင်းကာလာ**
ဖြိုးဥက္ကာကြည်

**အတွင်းဖလင်**
စိန်နဂါး

**အတွင်းနှင့်မျက်နှာဖုံးပုံနှိပ်**
ဦးဇေမျိုးဦး (အောင်မြင့်မိုရ်ပုံနှိပ်တိုက်)
(မြ - ၀၀၅၇၇)
အမှတ်(၁၂၉၉)၊ အောင်သုခ(၂၇)လမ်း၊
(၆)အရှေ့ရပ်ကွက်၊ သာကေတမြို့နယ်၊ ရန်ကုန်မြို့။

**စာအုပ်ချုပ်**
အောင်မြင့်မိုရ်

**ထုတ်ဝေသူ**
ဒေါ်ထွေးထွေးသိန်း (ငွေမှုံကြယ်လစဉ်)
(မြ - ၀၀၈၂၆)

**ထုတ်ဝေသည့်ခုနှစ်**
၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ (ပထမအကြိမ်)
အုပ်ရေ (၅၀၀)၊ တန်ဖိုး- ၁၅၀၀ ကျပ်

**ဖြန့်ချိရေး**
မြင့်မိုရ်မေမေစာပေ
၀၉ ၅၀၂၉၃၃၆၊ ၀၉ ၄၂၀၀၄၄၆၈၄

**Arrangement**
Maung Myo (Myint Moh Maymay Literature)

**Scenario**
Ko Thu Kha

**Translator**
U Hla Kywe

**Illustration**
Myo Man

**Cover Illustration**
Thein Shew Kyi

**Inside Colour**
Phyo Oakar Kyi

**Inside Film**
(CTP) Sein Na Gar

**Inside and Cover Press**
U Zay Myo Oo (Aung Myint Moh Printing Press)
(Permanence-00577)
No.1299, Aung Thu Kha (27) Street,
(6) East Quarter, Tharkayta Township, Yangon.

**Binding**
Aung Myint Moh

**Publisher**
Daw Htwe Htwe Thein (Nwe Mohn Kyel monthly)
(Permanence-00826)

**Date of Publishing**
2015, December (1st time)
Circulation (500), Price1500 Kyats

**Distribution**
Myint Moh Maymay Literature
09 5029336, 09 420044684



## ထုတ်ဝေသူ၏ဆန္ဒ

ယနေ့လူငယ်လူရွယ်များနှင့် အထူးသဖြင့် ကလေးငယ်များ ဘာသာရေးစာပေကို စိတ်ဝင်တစား ဖတ်ရှုနိုင်ရန်အတွက် ဆေးရောင်စုံ ကာတွန်းရုပ်ပြအဖြစ် သပ်ရပ်ခန့်ညားစွာ ဖတ်ချင်စဖွယ် ရှိလာအောင် မိမိအနေဖြင့် အစွမ်းကုန်ကြိုးစားထားပါသည်။

မိမိ၏ဆန္ဒမှာ ဤစာအုပ်ကို ကလေးသူငယ်များနှင့် လူငယ်လူရွယ်များ ဖတ်မိသွားပြီး အသိတရားနှင့် ဗဟုသုတရရှိပြီး လိမ္မာယဉ်ကျေးသော လူငယ်လူရွယ်များ ဖြစ်လာစေရန် ဖြစ်ပါသည်။

ဆက်လက်ပြီး အမျိုး၊ ဘာသာ၊ သာသနာနှင့်ယဉ်ကျေးမှု ဗဟုသုတနှင့် ပတ်သက်သော စာအုပ်ကောင်းများကိုလည်း ဆက်လက်ထုတ်ဝေသွားမည်ဖြစ်ပါသည်။



မောင်မျိုး
မြင့်မိုရ်မေမေစာပေ

## Publisher's Opinion

I have tried to the best of my abilities for this color cartoon illustration to be young people especially for the children so that they can read religion books.

My opinion is the children and the young read this book and get spirit and knowledge and to become clever and polite persons.

I will continue to publish the best books concerned naitonality, religion, teaching and culture.



Maung Myo
Myintmoh Maymay Literature

# မာတိကာ



# Contact

## အာဟာရဒါနပြုကြမှန်စွာ

## Offer the meal regularly

တစ်နေ့မှာတော့ ကိုးဘွဲ့ရဆရာတော် အရှင်အာစာရာလင်္ကာရဟာ တည်ထောင်ဖွင့်လှစ် သင်ကြားနေတဲ့ 'ယဉ်ကျေးလိမ္မာ ကလေးအထူးတရားစခန်း' သင်တန်းကြီးက ကလေးသူငယ်အချို့ကို ဟောကြားဆုံးမတော်မူလျက်ရှိတယ်။

One day, having nine titled Sayadaw Shin Asara Lankara who founded the "Institute of nurturing the polite children" admonished his pupil.

ဒီနေ့တော့ သားတို့သမီးတို့ကို သာသနာဆိုတာ ပြုတတ်ရတဲ့ အကြောင်းလေး ပြောပြမယ်ကွဲ့.

Today, I'll tell you how to propagat the religion.

တင်ပါ့ ဘုန်းဘုန်း

Yes, Your Highness.


အေး မြတ်စွာဘုရားရဲ့
သာသနာတော် ပြန့်ပွားတည်တံ့အောင်
သာသနာ့ဝန် ထမ်းနေတဲ့ ရဟန်းသံဃာ
တော်တွေကို ဆွမ်းကပ်လှူဒါန်းထောက်ပံ့တာဟာ
သာသနာပြုတာပဲကွဲ့.
To propagate Lord Buddha's
dispensation, offering the monks
also is also propagation.


တင်ပါ့ဘုရား
Yes, Your Highness.


အေး အဲဒီလို
သာသနာပြုရာမှာ
သာသနာပြုတတ်ဖို့ အရေး
ကြီးကြောင်း ပြောပြမယ်ကွဲ့.
I'll tell you how to propage
Buddhistic religion.
တင်ပါ့ဘုရား
Yes, Your Highness.



သုံးလောကထွဋ်ထား မြတ်စွာဘုရားရှင်
ကိုယ်တော်မြတ်ကြီး သာဝတ္ထိပြည် ဇေတဝန်
ကျောင်းတော်ကြီးမှာ သီတင်းသုံးနေတော်မူ
စဉ်ကာလ •••

When Lord Buddha, who was the ulmost person of the three worlds, resided in Zaitawun monastery in Sravasti.



'ဝေဒိသက'ဆိုတဲ့ တောင်ကြီးတစ်တောင်ရှိပြီး
ချောင်းကြီးတစ်ချောင်းဟာ အဲဒီတောင်ကြီးရဲ့
အနီးမှာ စီးဆင်းလျက် ရှိတယ်။

There was a gigantic mountain 'Waidithaka' and a big stream flowed beside this mountain.



ချောင်းကမ်းနံဘေးမှာ ရွာကြီး
တစ်ရွာရှိပြီး အဲဒီရွာရဲ့ အမည်
ကတော့ 'မာတိကာ'ပဲ ဖြစ်ပေ
တယ်။

There was a large village which was named as 'Matika' on the bank of this stream.

အဲဒီ မာတိကာရွာရဲ့ ရွာလူကြီး သူကြီးရဲ့ အမည်ဟာလည်း 'မာတိကာ'ပဲ ဖြစ်ပြီး ...

The name of the headman of Martika village was also Matika.





သူကြီးရဲ့မိခင်ကြီးကိုတော့ ရွာသူရွာသားတွေက 'မာတိကာမာတာ' လို့ ခေါ်ကြလေရဲ့။

The villager called the mother of headman as Matika Mata.





သူကြီးရဲ့အမေ မာတိကာမာတာဟာ
ဘာသာတရား အင်မတန်ကိုင်းရှိုင်းသူ
ဖြစ်ပြီး ဗုဒ္ဓမြတ်ဘုရားကို ရိုရိုသေသေ
ဆည်းကပ်ကိုးကွယ်သလို ...

The mother of headman Matika Mata, devoted her life to adhere dispensation and Lord Buddha.



သံဃာတော်တွေကိုလည်း အစဉ်
အမြဲ လှူဒါန်းလေ့ရှိသူဖြစ်တယ်။

She used to offer meals to the monks.




အဲဒီကာလမှာပဲ သံဃာတော်အပါး (၆၀)ဟာ ဇေတဝန်ကျောင်းတော်မှာ မြတ်စွာဘုရား ထံတော်က ဝိပဿနာ ကမ္မဋ္ဌာန်းစီးဖြန်းပုံ စီးဖြန်းနည်းတွေ မေးမြန်းလျှောက်ထားကြပြီး..
At that time the 60 monks in Zaitawun monastery asked Lord Buddha how to meditate.


တောအရပ် တစ်နေရာမှာ ဝါဆိုဖို့အတွက် ဇေတဝန် ကျောင်းတော်ကနေ ထွက် ခွာလာခဲ့ကြလေတယ်။
To take forest retreat, they left from Zaitawun monastery.

သံဃာတော် အပါး (၆၀)ဟာ မာတိကာ ရွာထဲ ဆွမ်းခံကြွလာတော်မူကြရာ မာတိကာမာတာနဲ့ နောက်လိုက် အမျိုးသမီးတွေဟာ သံဃာတော်တွေကို အိမ်ပေါ်ပင့်ပြီး ...

When 60 monks came into the village of Matika, Matika Mata and her woman followers invited the monks to the house.




သံဃာတော်တွေကို ဆွမ်းခဲဖွယ်ဘောဇဉ်တွေနဲ့ ဖွယ်ဖွယ်ရာရာ ဆက်ကပ်လှူဒါန်းကြလေတယ်။

They offered variety of foods to the monks.



သံဃာတော်တွေ ဆွမ်းဘုဉ်းပေးပြီးတဲ့အခါ မာတိကာ မာတာက လျှောက်ထားမေးမြန်းလေတယ်။

After the monks had eaten the meal, Matika Mata asked the monks.









ကျုပ်တို့ဟာ မြို့ပြအရပ်မှာ
ဝါမဆိုဘဲ တောအရပ်မှာ ဝါဆိုမယ်ဆိုပြီး
ဘုရားရှင်ဆီ ခွင့်ပန်ပြီးမှထွက်လာကြတာပါ

We have asked permission from
Lord Buddha to go into monsoon
retreat in the forest.

သစ်တစ်ပင် ဝါးတစ်ပင်ရင်းမှာပဲဖြစ်ဖြစ်
သီတင်းသုံးနေထိုင်ပြီး ဒီဝါတွင်းကာလမှာ
တရားအလုပ်ကိုပဲ အာရုံစူးစိုက် ကြိုးပမ်း
ကျင့်ကြံဖို့ ဆုံးဖြတ်ထားကြပါတယ် ဒကာမကြီး

We will take shelter under a
bamboo or a tree and concentrate
on meditation.

အဲဒီလို တစ်ဝါတွင်းလုံး
ရဟန္တာဖြစ်တဲ့အထိ ကျင့်ကြံကြိုး
ကုတ် အားထုတ်ပြီး ဝါကျွတ်တဲ့အချိန်
ရဟန္တာဖြစ်မှ ဘုရားရှင်ကို ဦးခိုက်ပူဇော်ဖို့
ဇေတဝန်ကျောင်းတော်ဆီ ပြန်ကြွကြမှာပါ
ဒကာမကြီး

We will be in the forest as a
monsoon retreat and we will
return to Lord Buddha only
when we attain
arhathood.


အရှင်မြတ်တို့ရဲ့ မြင့်မြတ်လှတဲ့
ရည်ရွယ်ချက်အတွက် သာဓုခေါ်
ပါတယ် ဘုရား သာဓု သာဓု
သာဓုပါဘုရား
We praise for your noble deeds.
Well done! Well done!
Well done!


ဒါပေမဲ့ သစ်တစ်ပင်
ဝါးတစ်ပင်ရင်းမှာ တစ်ဝါတွင်းလုံး
တရားကျင့်ကြံမယ်ဆိုရင် မိုးမလုံ လေမလုံနဲ့
နာဖျားကုန်ပါ့မယ်ဘုရား
If you concentrate on meditation
under a bamboo or a tree
you'll be drenched under the
torrential rain.




တပည့်တော်မတို့ရဲ့
ရွာထိပ်မှာ ကျောင်းကြီးတစ်ဆောင်
ဆောက်လုပ်ထားပါတယ်ဘုရား၊ လက်ရှိ
သီတင်းသုံးနေထိုင်မယ့် ကျောင်းထိုင်
ဘုန်းတော်ကြီးမရှိသေးပါဘူး ဘုရား
We've built a big monastery
at the entrance of the village.
It has not residing monk
yet.




သံဃာတော် သာမဏေတို့လည်း မရှိတဲ့အတွက် ဒီအတိုင်း ပိတ်ထားရပါတယ် ဘုရား
As there are no monks and novices, we have already closed it.
အဲဒီကျောင်းမှာ အရှင်ဘုရားတို့ သီတင်းသုံး နေထိုင်သင့်လှပါတယ် ဘုရား၊ အဲဒီကျောင်းမှာပဲ ဝါဆိုတော်မူကြပါဘုရား
You should take monsoon retreat there.
တပည့်တော်မနဲ့တကွ ရွာသူရွာသားတို့လည်း ဝါတွင်းကာလမှာ ဥပုသ်သီလ ယူခွင့်ရတာပေါ့ဘုရား
We also have the chance to take sabbath during the Buddhistic lent.

အရှင်ဘုရားတို့အတွက် ဆွမ်း ကွမ်းဆေးမှအစ လိုလေသေး မရှိအောင် တပည့်တော်မ တာဝန်ယူ လှူဒါန်းမှာပါ ဘုရား
We will provide and support you during this time.

မာတိကာ မာတာရဲ့ လျှောက်ထားမှုကို သံဃာတော်တွေက လက်ခံတော်မူလိုက်ကြတယ်။
The monks accepted the donation of Matika Mata.

ကောင်းပြီ ဒကာမကြီး ကျုပ်တို့ အဲဒီကျောင်းမှာပဲ ဝါဆိုပါ့မယ်
Well, female lay-devotee, we will take monsoon retreat in this monastery.

ဒီလိုနဲ့ သံဃာတော်အပါး (၆၀)ဟာ မာတိကာရွာရဲ့ ရွာဦးကျောင်းမှာ သီတင်းသုံးနေထိုင်ကြတော့တယ်။

The 60 monks took monsoon retreat at the monastery of the village of Matika.



မာတိကာမာတာ ဥပါသိကာမကြီးဟာ ပြောထားတဲ့ စကားအတိုင်း သံဃာတော်တွေကို လိုလေသေးမရှိအောင် လှူဒါန်းထောက်ပံ့မှုပြုလေတယ်။ မနက်မိုးလင်းတာနဲ့ သံဃာတော်တွေကို ယာဂုဆွမ်းကပ်တယ်။

The female lay-devotee Matika Mata, as she had said, she offered and donated the monastic materials for the monks. She offer yogurt every morning.



သံဃာတော်တွေ မာတိကာရွာထဲ ဆွမ်းခံကြွရင်လည်း နေ့ဆွမ်းအတွက် လုံလောက်အောင် လောင်းလှူတယ်။

When the monks went into the village to collect alms, the villagers offered monks.



ညနေရောက်ရင်တော့ နောက်လိုက်နောက်ပါ အမျိုးသမီးတို့နဲ့အတူ ကျောင်းဆီ စတုမဓုတွေ ဖျော်ရည်တွေ ယူလာပြီး သံဃာတော်တွေကို တိုက်ကျွေးလှူဒါန်းတယ်။

In the evening, with female followers, Matika Mata brought satumadu and sweet drinks to feed the monks.



မာတိကာ မာတာ ဥပါသိကာမကြီးဟာ ဒီလို နေ့စဉ် နိစ္စဓူဝ လှူဒါန်းဆက်ကပ်လေတယ်။

The female lay-devotee donated like that everyday.

သံဃာတော်အပါး (၆၀)ဟာ မာတိကာရဲ့လှူဒါန်း
ထောက်ပံ့ စောင့်ရှောက်မှုကြောင့် ကျောင်းကောင်း
ကောင်းမှာ သီတင်းသုံးနေထိုင်ကြရပြီး ဆွမ်းကွမ်း
အတွက်လည်း မပူရပေမယ့် ...

However the 60 monks were provided and supported by Matika Mata.



ကျောင်းကြီးပေါ် စုရုံးစုရုံးနဲ့ နေထိုင်ကြရတာ
မို့ တရားဘာဝနာကို သေသေချာချာ အာရုံ
စူးစိုက်နိုင်ခြင်း မရှိကြဘူး။

As the monks were living together, they did not have any privacy to concentrate on meditation.



ဒီလိုနဲ့ ရက်အတော်ကြာလာတော့ သံဃာတော် အပါး(၆၀) ထဲက အကြီးအမှူးဖြစ်သူ မထေရ်မြတ်ကြီးက သတိပေးစကား မြွက်ကြားတော်မူလာတယ်။

In this way, after so many days had passed, the great monk warned the monks.






အဲဒီတော့ ငါတို့ဟာ
နေ့ဆွမ်းဘုဉ်းပေး
ပြီးတဲ့အချိန်ကနေ ညမိုးချုပ်တဲ့အချိန်
အထိ ငါတို့ဟာ တစ်ဦးနဲ့တစ်ဦး
တွေ့ဆုံခြင်းမရှိဘဲ
So whenever we have eaten,
we must stay apart.

သစ်တစ်ပင်
ဝါးတစ်ပင်အောက်မှာပဲ
တစ်ပါးစီ သီတင်းသုံးပြီး ကမ္မဋ္ဌာန်း
စီးဖြန်းကြပါစို့
We must stay under the
bamboo or a tree and
recite the preaching.

အဲဒီလို လူစုခွဲပြီး
တစ်ပါးကိုတစ်နေရာ
အကွဲကွဲ အပြားပြား ကေစာရီ
တစ်ကိုယ်တည်း ကျင့်ကြံကြရင်းက
ဘေးဒုက္ခ တစ်စုံတစ်ရာတွေ့ကြုံရင်
ဒါမှမဟုတ် ဖျားနာကုန်ကြရင် ...
By living separately and
concentrate on meditation
and if we are ill....


ဟောဒီ ကျောင်းကြီးရဲ့ အလယ်ခေါင်က ကျောက်စီ ကြီးကို ထိုးရမယ်
Strike the stone-bell which is under the monastery.


အဲဒီ စည်ထိုးသံကြားရင် ကျုပ်တို့ရဟန်းတွေ ကျောင်းမှာ ပြန်စုကြတာပေါ့ ဘယ့်နှယ်လဲ
If we hear the sound of stone-drun, let's gather under the monastery.


သင့်မြတ်လှပါတယ် ဘုရား
Very suitable, Your Highness.

သံဃာအားလုံးက သဘောတူကြတဲ့အတွက် နေ့ဆွမ်းဘုဉ်းပေးပြီးတာနဲ့ ကျောင်းကနေ ထွက်ခွာခဲ့ကြကာ ...

As all the monks agreed, after they had taken the meal, they went out of the monastery.





ရွာရဲ့အနောက်မြောက်ဘက် အရပ်မှာရှိတဲ့ စိမ်းစိမ်း ညို့ညို့တောအုပ်ကြီးဆီ ဦးတည်ကြွလှမ်းသွားကြ တော့တယ်။

The monks went to the lush and verdant forest which was at the northwest of the village.

တောထဲရောက်တယ်ဆိုရင်ပဲ သစ်တစ်ပင် ဝါးတစ်ပင် ပင်ရင်းမှာ အသီးသီးနေရာယူကြကာ ကမ္မဋ္ဌာန်း ဝိပဿနာတရားတွေကို ကြိုးစားပမ်းစား အားထုတ်စီးဖြန်းကြလေတယ်။

When they had been in the forest, each of them sat under a bamboo or a tree and concentrated on the vipassana.



ညနေစောင်းကျမှ တောထဲက ထွက်ပြီး ရွာဆီပြန်လာကြတယ်။

In the evening, they got out of the forest and returned to the village.



သံဃာတော်တွေ ကျောင်းပြန်ရောက်ပြီး ခဏကြာမှ မာတိကာမာတာ ဥပါသိကာမကြီးနဲ့ နောက်ပါ အမျိုးသမီးတို့ရောက်လာကြပြီး ...

When the monks had been back to the monastery, the female lay devotee Matika Mata, together with her women followers came and ...




သံဃာတော်တွေကို စတုမဓုနဲ့
ဖျော်ရည်တွေ ဆက်ကပ်ကြတယ်။
They offered the monks with
satumadu and sweet drinks.


ဒါကြောင့် မာတိကာမာတာ ဥပါသိကာမကြီးဟာ ရဟန်းတို့
တောထဲမှာ နေ့စဉ်နေ့ခင်းပိုင်းအချိန် တရားသွင့်ကျင့်ကြဲ
အားထုတ်တာကို မသိပေဘူး။ ဒီလိုနဲ့ ရက်အတော်ကြာ
နေလာကြရင်းက ...
So the female lay-devotee Matika Mata did not know
the monks who went out to concentrate meditation.


တစ်ညနေမှာတော့ မာတိကာမာတာနဲ့ အမျိုးသမီး ဥပါသိကာ အဖွဲ့ဟာ စတုမဓုနဲ့ သစ်သီးဖျော်ရည် ဗန်းတွေ ရွက်ပြီး ခါတိုင်းထက် နာရီဝက်လောက် စောကာ ကျောင်းဆီ ရောက်လာကြတော့တယ်။
In one evening, the female lay-devotee Matika Mata and her followers went to the monastery earlier than usual.


မာတိကာမာတာတို့ ကျောင်းကြီးအပေါ် တက်လာတယ်ဆိုရင်ပဲ တစ်ကျောင်းလုံး ခြောက်ကပ် တိတ်ဆိတ်နေတာကို တအံ့တသြ တွေ့လိုက်ကြရတော့တယ်။
When Matika Mata arrived at the monastery, she found that the whole monastery was silent and empty.
အို တစ်ကျောင်းလုံးလည်း တိတ်ဆိတ်လို့ပါလား
The whole monastery is in silence.



သံဃာတော်တွေ ဘယ်
ရောက်သွားကြပါလိမ့်
Where do the monks go?

သူမတို့ဟာ ကျောင်းကြီးအနှံ့လိုက်ရှာကြပေမယ့် သံဃာတော်တစ်ပါးရဲ့ အရိပ်အယောင်တောင် မတွေ့ကြရဘူး။
Although they searched around the monastery, they did not find any monk.



သံဃာတော်တွေ ဘယ်
ရောက်ကုန်ကြပါလိမ့်
I wonder where do they go?

ဟုတ်ပရှင် တစ်ပါးတလေ
တောင် မတွေ့ဘူး
Yes, of course, I find none.


နောက်ဆုံး ကျောင်းအောက် ဘေးဘက် ဆွမ်းချက်ရုံထဲမှာနေတဲ့ ကပ္ပိယကြီးကို မေးကြည့်ရတော့တယ်။
Eventually, they asked the acolyte about it.
ကပ္ပိယကြီး ကျုပ်ရဲ့သံဃာတော်တွေ ဘယ်ကြွသွားကြသလဲ၊ ကျောင်းပေါ်မှာရော ကျောင်းအောက် ကျောင်းဘေးကျောင်းဝင်းထဲမှာ တစ်ပါးမှ မတွေ့ရပါလား
Acolyte! Where are the monks? I find no one around the monastery.


ကျောင်းပေါ်က စည်ကြီးကိုသာ တီးလိုက်ပါ ကိုယ်တော်တို့ ပြန်ကြွလာပါလိမ့်မယ်
Strike the drum. They will come here.



ဒီလိုနဲ့ ဥပါသိကာမကြီးတို့အဖွဲ့ဟာ ကျောင်းကြီး၏အလယ်က စည်ကြီးကို တီးခတ်လိုက်ကြတော့တယ်။
So the team of female lay-devotee struck the drum hanging at the centre of the monastery.



စည်တီးလိုက်လို့ ခဏအကြာမှာပဲ တောအုပ်အနှံ့ကနေ အသီးသီး ထွက်လာကြတဲ့ သံဃာတော်တွေဟာ ...
When they heard the sound of drum, the monks came out from the grove of the tree.




ကျောင်းပေါ်ကို အလျှိုလျှို တက်လာကြတော့တယ်။
The monks stepped upstair of the monastery.


မာတိကာမာတာ တစ်ပါးချင်းစီ ကြွလာကြတဲ့ ရဟန်းတော်တို့ကို ကြည့်ရင်း သံသယ ဝင်လာတော့တယ်။
Matika Mata felt suspicion by looking at the monks one by one.


ဒါပေမဲ့ ဘာမှမပြောသေးဘဲ သံဃာတော်တွေကို စတုမဓုနဲ့ဖျော်ရည်တွေ ဆက်ကပ်လိုက်ကြတယ်။
But she said nothing and offered satumadu and sweet drinks.

စတုမဓုနဲ့ ဖျော်ရည်တွေကို သံဃာတော်တို့ သုံးဆောင်ဘုဉ်းပေးပြီးမှ မေးလျှောက်တော့တယ်။
After the monks had taken satumadu and sweet drinks, she asked.






မသင့်မတင့် မဖြစ်ပါဘူး ဒကာမကြီးရဲ့
We are in unity, lay-devotee.

ဒါဆို ဘာဖြစ်လို့ ကျောင်းမှာ အရင်ကလို စုစုရုံးရုံး သီတင်းသုံး မနေထိုင်ကြတာပါလဲ ဘုရား
If so, why don't you live together as before?

တပည့်တော်မကတော့ ကိုယ်တော်တို့ကို စုစုစည်းစည်း ညီညီညွတ်ညွတ် နေစေချင်တာပါပဲ ဘုရား
I want you to stay here in unity and harmony.


ဒကာမကြီး ကျုပ်တို့ သံဃာတော်တွေဟာ ညဘက် ဒီကျောင်းပေါ်မှာပဲ ကျိန်းစက်ပြီး အတူ စုစုရုံးရုံး သီတင်းသုံးနေထိုင်ကြပါတယ်
Female lay-devotee, we live here together at nighttime.


မနက် အရုဏ်ဆွမ်း စားတော့လည်း တစ်စုတစ်စည်းတည်းပါပဲ
We eat breakfast together.


ဆွမ်းခံကြွတော့ရော နေ့ဆွမ်းစားတော့ရော မကွဲမကွာ ခဲ့ကြပါဘူး
We go out alms collecting round together.


ဒါပေမဲ့ နေ့ဆွမ်းစားပြီးတာနဲ့ တောအုပ်ထဲဝင်ပြီး သစ်တစ်ပင် ဝါးတစ်ပင်အရင်းမှာ တစ်ပါးစီ တစ်ကွဲတစ်ပြား နေရာယူကြပါတယ်
But, after we have eaten the lunch, we go separately to the forest retreat.


ကမ္မဋ္ဌာန်းတရား စီးဖြန်းရာမှာ တစ်ဦး တစ်ယောက်ချင်းစီ စီးဖြန်းလေမှ အာရုံပိုမိပြီး တရားကျင့်ကြံရာမှာ သမာဓိ ပိုတည်ပါတယ် ဒကာမကြီး
In concentrating the meditation, we need privacy and solitude.


ဒါကြောင့် ကျုပ်တို့ဟာ တစ်နေ့ခင်းလုံး သီးခြားစီ ခွဲပြီး တရားဘာဝနာ သွား အားထုတ်ကြတာပါ
So in the noon-time, we concentrate meditation separately.




အရေးကိစ္စကြုံရင် နှဲဗျားရင်တော့ ကျောင်းပေါ်က စည်ကြီးကို အချက်ပြတီးပြီး ပြန်စုစည်းဖို့ သတ်မှတ်ထား ကြပါတယ် ဒကာမကြီး
If there is a case, we converge here when we hear the sound of drum.


ကြော် ဒီလိုလား ဘုရား။ တပည့်တော်မက သံဃာအချင်းချင်း အချင်းများကြတယ် ထင်လို့ပါ တော်ပါသေးရဲ့
Oh! If it is so. I thought that there is a conflict amongst the monks.
အရှင်ဘုရားတို့ ကေစာရီ တရားကျင့်ကြံ ကြတာကိုလည်း လေးစား ကြည်ညိုမိပါတယ် ဘုရား
I adore your concentration with full privacy.


အဲဒီလို ကမ္မဋ္ဌာန်းတရား အားထုတ်ကျင့်ကြံရင်ရော ဘယ်လိုအကျိုးထူးတွေ ရပါသလဲဘုရား
How do you get any effectiveness by doing so?



ဈာန်တရား မဂ်တရား ဖိုလ်
တရား နိဗ္ဗာန်တရား ဆိုတဲ့
တရားမြတ်လေးပါးကို
ရရှိနိုင်ပါတယ် ဒကာမကြီး
You can attain mag,
phol, zarn and
nirvana.

အရှင်ဘုရား အဲဒီလို
ကမ္မဋ္ဌာန်းတရားမြတ်ကို အရှင်ဘုရားတို့လို
ယောကျ်ားသားတွေပဲ ကျင့်ခွင့်ရှိပါသလား
ဘုရား
To attain such ability, can
man only practise it?

တပည့်တော်မတို့လို
မာတုဂါမတွေရော စီးဖြန်း
ကျင့်ကြံခွင့်မရှိဘူးလား ဘုရား
Everyone can try to
attain it.

ဘယ်သူမဆို ကျင့်ကြံ
ကြိုးကုတ် အားထုတ်လို့
ရပါတယ် ဒကာမကြီးရဲ့
The female lay-devotees
like you can
practise it.


သူတော်ကောင်းတရားဆိုတာ ယောကျ်ားပဲဖြစ်စေ မိန်းမပဲဖြစ်စေ ဘယ်သူကျင့်ကျင့် ကျင့်နိုင်သူဟာ ရနိုင်တာပဲ ဒကာမကြီးရဲ့ ကျင့်ကြံနိုင်ဖို့ပဲ လိုပါတယ်
No matter male of female, you can practise the virtuous deed.


တင်ပါ့ဘုရား တပည့်တော်မ သဘောပေါက်ပါပြီ ဘုရား
Yes, I realize now, Your Highness.


တပည့်တော်မလည်း အရှင်ဘုရားတို့ ကျင့်တဲ့ အဲဒီတရားကို ကျင့်ကြံလို ပါတယ် ဘုရား
I want to practise just like you do.


အဲဒီတရားဟာ (၃၂) ကောဋ္ဌာသ
ကမ္မဋ္ဌာန်းတရားပါပဲ ဒကာမကြီး၊ အဲဒီ ကမ္မဋ္ဌာန်း
တရားကိုမြတ်စွာဘုရားဆီကနေ ကျုပ်တို့ သင်ကြား
နာယူခဲ့ကြတာပါ
That's the 32 assemblage of parts of the body. That's the deep concentration of meditation.


အဲဒီ ကမ္မဋ္ဌာန်းတရား
တပည့်တော်ကို မျှဝေ
ဟောကြားပေးတော်မူပါဘုရား
Please preach me this method of concentration.


ကောင်းပြီ ဒကာမကြီး
ကောင်းစွာနာကြားပေရော့
Well, listen to me carefully.



အဲဒီနောက် ဟောကြားမယ့် ရဟန်းတော်က တရားပလ္လင်ထက်မှာ ထိုင်တော်မူပြီး မာတိကာမာတာ ဥပါသိကာ ဒကာမကြီးက ကြမ်းပြင်ထက်မှာ ငြိမ်သက်စွာ လက်အုပ်ချီထိုင်လျက် တရားတော်ကို ရိုသေစွာ နာယူလေတယ်။

Then the preacher sat on the dais and female lay-devotee Matika Mata sat on the floor and worshipped respectfully.

တရားပွဲ မထေရ်မြတ်က (၃၂) ကောဋ္ဌာသ ကမ္မဋ္ဌာန်း တရားတော်မြတ်ကို ကောင်းစွာ ဟောကြားတော်မူလေတယ်။

The preacher delivered the 32 assemblage well.

ဆံပင် အမွေးအမျှင် ခြေသည်းလက်သည်း သွား အရိုး အရေ စတဲ့ (၃၂) ကောဋ္ဌာသ
သော ခန္ဓာကိုယ်က အရာအားလုံးဟာ မမြဲတဲ့ အနတ္တတရားများသာဖြစ်ကြောင်း
ဟောဖော်ပြလေတဲ့ ကမ္မဋ္ဌာန်းတရားတော်မြတ်ကို ...

Hair, nails, bones and skin are assembled as 32 body parts. All of them are impermanent and explained the nature of meditation.

ရှိသေစွာ ကြားနာရင်း စိတ်နှလုံးထဲကနေ
ဆင်ခြင်မိလာတဲ့ မာတိကာမာတာ ဥပါသိကာ
မကြီးဟာ တရားသံဝေဂရပြီး သုံးမဂ် သုံးဖိုလ်
ဆိုက်ရောက်ကာ အနာဂါမ် ဖြစ်သွားတော့တယ်။

After she had listened carefully she attained the stage of anargham.



အနာဂါမ် ဖြစ်သွားတယ်ဆိုရင်ပဲ မြေလျှိုးပြီး မိုးပျံနိုင်တဲ့ တန်ခိုး ဈာန်အဘိညာဉ် ရသွားတော့တာပါပဲ။

As she attained the stage of anargham, she could enter into the earth and fly into the air.





ထူးခြားတာက တရားဟောပြလေတဲ့ တရားပလ္လင်ပေါ်က ရဟန်းတော်ရော ကျန်တဲ့ရဟန်းတော် (၆၀)ပါ အနာဂါမ် မဖြစ်သေးဘဲ တရားနာယူတဲ့ မာတိကာ မာတာ ဒကာမကြီးက အနာဂါမ် ရသွား တာပါပဲ။

It was strange that the listener attained the stage of anargham, but the preacher did not.

အဲဒီနောက် မာတိကာ မာတာဟာ ရဟန်းတော်တို့ကို ပြုမြဲဝတ္တရားအတိုင်း နေ့စဉ် ဆွမ်းကွမ်း ဆက်ကပ်ကာ လှူဒါန်းမှု ပြုလေတယ်။

After that, Matika Mata used to offer the meal to the monks as before.

ရဟန်းတော်တို့လည်း နေ့စဉ် တရားကျင့်ကြံမြဲ ကျင့်ကြံ အားထုတ်တော်မူကြတယ်။

The monks also concentrated on meditation as before.

ဒါပေမဲ့ ရက်တွေသာ ကြာလာတယ် ရဟန်းတော်တွေဟာ ဘယ်သူမှ မဂ်ဉာဏ် ဖိုလ်ဉာဏ် မရကြသေးပါဘူး။

But, no monk attained sublime wisdom.

အင်း ကမ္မဋ္ဌာန်းတရားတော်ကို တစ်ထိုင်တည်း နာယူတဲ့ ငါက မဂ်ဉာဏ် ဖိုလ်ဉာဏ် ရပြီး အနာဂါမ်ဖြစ်ပါလျက်
Em! I've attained the anargham stage with one sitting.

ငါ့ရဲ့ရဟန်းတော်တွေဟာ ဘာဖြစ်လို့ ခုထက်ထိ မဂ်ဉာဏ် ဖိုလ်ဉာဏ် မရသေးပါလိမ့်
Why don't my monks attain such stage?

မာတိကာ မာတာ ဒကာမကြီးဟာ သူမ လှူဒါန်းထောက်ပံ့ထားတဲ့ ရဟန်းအပါး (၆၀)ဟာ ဘာဖြစ်လို့ အနာဂါမ်မဖြစ်ရ သလဲလို့ မချင့်မရဲ ဖြစ်နေရှာတော့တယ်။
Matika Mata was bewildered why did the 60 monks not attain such stage.




အင်း ငါ့ရဲ့ ကိုယ်တော်တွေဟာ ကျောင်းသင်္ခမ်းကောင်းကောင်းမှာလည်း သီတင်းသုံး နေထိုင်ရတယ်
Em! My monks can live in good monastery.


အိပ်ရာနေရာလည်း ကောင်းမွန်ပါတယ်
They can also sleep well.


အတူ သီတင်းသုံးဖော် ရဟန်းချင်းလည်း သင့်တင့်ပါတယ်
They can live harmoniously among them.
ဆွမ်း ဆွမ်းဟင်း အဖျော်ကစလို့ ငါက လိုလေသေးမရှိ လှူဒါန်းဆက်ကပ်နေတာပဲ
I offer meal and sweet drink regularly.

ဒါနဲ့တောင် ဘာဖြစ်လို့ တရား
မပေါက်ရသလဲ အနာဂါမ်
မဖြစ်ရသလဲ

Even so, why didn't
they attained the
anargham stage.

နောက်ဆုံး တွေးမရတဲ့အခါ
ဒိဗ္ဗစက္ခုအဘိညာဉ်နဲ့ ဆင်ခြင်
သုံးသပ်ကြည့်တော်မူရာ ...

As she could not think,
she reasoned the cause
with her omniscience.

ဩော် လက်စသတ်တော့
ကိုယ်တော်တို့ဟာ မိုဝဲဘုဦး
ပေးရတဲ့ ဆွမ်း ဆွမ်းဟင်းနဲ့ပတ်
သက်ပြီး အဆင်မပြေဖြစ်ကြပြီး
အာဟာရသပ္ပါယ မမျှတကြဘူးကိုး

Oh! In reality, the food
they eat is not suit
for them.


ဖြစ်ရပ်အမှန်ကို သိမြင်သွားတဲ့ မာတိကာ မာတာ ဒကာမကြီးဟာ အဲဒီနေ့ကစပြီး ရဟန်းတစ်ပါးစီရဲ့ အာဟာရ လိုအပ်ချက်တွေကို လေ့လာစူးစမ်းပြီး ...
As she had already known the cause, she used to check the food and nutrition.


အငန်နဲ့မတည့်တဲ့ ကိုယ်တော်ကို အငန်လျှော့ချက်တဲ့ ဟင်းလျာ ဆက်ကပ်သလို ...
Some monks did not suit with salty curry and she reduced the salt.


အချိုနဲ့မတည့်သူကို အချိုလျှော့ပြီး ...
Some monks did not suit with sweet drinks.

အစပ်ကြိုက်တဲ့ကိုယ်တော်ကို
ခပ်စပ်စပ် ဟင်းလျာလေး ကျွေး
မွေးဆက်ကပ်လေတယ်။

She reduced the content of salt in the curry.



အဲဒီလို ရဟန်းတော်တစ်ပါးစီရဲ့ လိုအင်ပြည့်
အောင် သူတို့နဲ့မတည့်တဲ့ အစာ အာဟာရတွေကို
ရှောင်ပြီးဂရုတစိုက် ချက်ပြုတ် ဆက်ကပ်လှူဒါန်း
လေရာ ...

She managed the food for each of the monks.



ရဟန်းတို့ဟာ အာဟာရသပ္ပါယ
မျှတညီညွတ်ပြီး ...

The monks could eat suitable food.

တရားအလုပ်ကို ကောင်းမွန်ချမ်းမြေ့စွာ လုပ်ဆောင်နိုင်ကြတဲ့အတွက် ဝါလကင်းလွတ် သီတင်းကျွတ်တဲ့အခါမှာတော့ ရဟန်းတော်အပါး (၆၀)လုံး တရားအဆင့်တွေတက်ကာ ရဟန္တာ ဖြစ်သွားကြရတော့တယ်။

They could concentrate on meditation well and when the Buddhistic lent was over, all the 60 monks attained arhathood.

ကဲ ကလေးတို့ရေ ဒီတရားတော်ရဲ့ ဆိုလိုရင်းကတော့ သာသနာပြုတဲ့ အနေနဲ့ သံဃာတော်အရှင်သူမြတ်တို့ကို အာဟာရဒါနပြုရာမှာ
Well children, the main theme of this event is that when you prepare the meal for the monks.

ရဟန်းတော်တွေရဲ့ ကျန်းမာရေးနဲ့ လိုက်လျောညီထွေ သပ္ပါယ မျှတအောင်လုပ်ကျွေးထောက်ပံ့ လှူဒါန်းကြဖို့ လိုအပ်တယ်ဆိုတာကို သတိပြုနိုင်အောင် ပြဆိုတာပဲကွဲ့.
You must notice the health of the monks. So in offering food you must aware the effect of health


အဲဒီ အချက်ကို ကလေးတို့ တစ်သက်တာ မှတ်ထားကြကွဲ့နော်
You must aware that fact throughout your life.


တင်ပါ့ဘုရား မှတ်ထား ပါ့မယ်
Yes, Your Highness.


အေး သာဓုပါကွယ် သာဓု သာဓု ကလေးတို့တစ်နေ့မှာ သာသနာပြုပုဂ္ဂိုလ်များ ဖြစ်လာကြပါစေကွယ်
May you be the propagator of Buddhistic religion. Well done! Well done! Wel done!
ပေးတဲ့ဆုနဲ့ ပြည့်ပါရစေ ဘုရား
May your prayer be fulfilled.

# အမေအိုရဲ့အံ့ဖွယ်မေတ္တာ

The incredible love of an old woman

ကလေးတို့ရေ ဒီတစ်ခါတော့ မိခင်အိုကြီးတစ်ယောက်ရဲ့ မေတ္တာအကြောင်း ပြောပြမယ်ကွဲ့.

Children, this time I'll tell you the story of the love of an old mother.

မိဘရဲ့မေတ္တာ ဘယ်လောက် ကြီးမားတယ် ဆိုတဲ့အကြောင်း ရင်နင့်စရာ အဖြစ်အပျက် လေးပေါ့ကွယ်

That's the sad story depicting the un-fathomable love of a mother.

ဖြစ်ရပ်ကတော့ ဒီလိုကွဲ့.

It happened like that.

တင်ပါ့ဘုရား

Yes, Your Highness.

တစ်ခါတုန်းက ရွာတစ်ရွာမှာ မုဆိုးမအမယ်အို တစ်ယောက်ရှိပြီး သူမမှာ လိမ္မာတဲ့သားလေး တစ်ယောက်ရှိတယ်။

Once upon a time in a villager, there was an old widow. She had a clever son.



အရွယ်ရောက်လာပြီဖြစ်တဲ့ သားဟာ သူများရဲ့လယ်မှာ သူရင်းငှားအဖြစ် ထွန်ယက်လုပ်ကိုင်ကာ အမေအိုကို ရှာကျွေးနေတယ်။

At the age of puberty, he was a farm-hand to other's paddy-field and looked after his mother.



သိပ်ပြီး မသန်စွမ်းလှတော့တဲ့ အမေအိုဟာ သားဖြစ်သူ လယ်ထဲဆင်းသွားရင် အိမ်မှာ တစ်ယောက်တည်း ကျန်ရစ်ခဲ့ရှာသလို ...

As she was a weak and old woman, she lived alone when his son went out ploughing.






သားအမိနှစ်ယောက်ဟာ ဆင်းရဲလှတာမို့ လှတန်းစေ့အောင်
မစားနိုင် မသောက်နိုင်ကြပေဘူး။

As they were poor they could not live as proper
standard.





ပင်ပန်းလို့လည်း
ငါ့သားအတွက်
ဟင်းကျွေးဟင်းလျာ ကောင်းကောင်း
မချက်ကျွေးနိုင်ဘူး

Although my son is tired,
I can't feed him with good
curry.

တစ်နေ့ တစ်နေ့ ငါးပိရည်ကြဲနဲ့
ဟင်းသီးဟင်းရွက်ရေလုံပြုတ်ပဲ
သားလေးအတွက် စီစဉ်ပေးနိုင်
တယ်

Everyday my son had
to eat with boiled
pickle fish and
boiled gourd.

ငါ့သားလေး ကြိုက်တဲ့
ဟင်းလေးတွေ ချက်ကျွေး
ချင်လိုက်တာ

I want to feed my
son with his favourite
curry.

ဒါပေမဲ့ အမယ်အိုရဲ့ဆန္ဒက
ဘယ်တော့မှ ပြည့်မလာပါဘူး။
But her desire did not fulfill.

အင်း လက်ထဲမှာ ပိုက်ဆံမှ
မရှိဘဲ ဘယ်လိုလုပ်ပြီး သားလေး
ကြိုက်တဲ့ ဟင်းတွေ ချက်ကျွေး
နိုင်မှာလဲ
Em! As I've no money,
how can I cook a
good curry.

သား ပြန်လာတော့လည်း
ထုံးစံအတိုင်း ငါးပိရေကျိုနဲ့
ဟင်းသီးဟင်းရွက်ရေလုံပြုတ်ပဲပေါ့။
As usual, when my son returns
I had to feed him with boiled
pickle fish and gourd.






စားနိုင်ပါတယ်
အမေ
I can eat it,
mother.


အင်း ငါ့သားလေးလည်း
တစ်နေ့တစ်နေ့ လယ်ထဲ
ကိုင်းထဲမှာ နွားနဲ့ဖက်ပြီး ရုန်း
နေရတာ ပင်ပန်းလိုက်တာကွယ်
You're tired for toiling
with oxen in the field.
အမေတို့ရဲ့ဘဝက အဲဒီလောက်
အပင်ပန်းခံပြီး လုပ်ကိုင်ရှာဖွေတာတောင်
ကိုယ်စားချင်တာလေးတွေ ဝယ်ခြမ်း
ချက်ပြုတ်မစားနိုင်တဲ့ဘဝပါကွယ်
However we work hard, we
can't eat good food.






ဟုတ်တယ် အမေ သားဆို ဟိုဟာကို အရမ်းစားချင်တာပဲ အမေ
Yes, of course. I want to this one very eagerly.


ဘာ ဘာကို စားချင်တာလဲ သားရဲ့
What do you want to eat, my son?
သင်္ဘောသီးလေ အမေ
Papaya of course.


ဟင် သင်္ဘောသီး ဟုတ်လား
Hm! You want to eat papaya?

ဟုတ်တယ် အမေ သား
သင်္ဘောသီးမှည့်မစားရတာ
ကြာပြီအမေရဲ့
Yes, mother. I haven't eaten papaya for a long time.

အေး အေး
Yes, yes.

လယ်ပိုင်ရှင်ကြီး
မြို့ကအပြန်မှာ သင်္ဘောသီး
မှည့်နှစ်လုံးဝယ်လာပြီး သူတို့မိသားစုတွေ
ခွဲစိတ်စားနေကြတာ မြင်ရကတည်းက
သားက စားချင်နေတာ အမေရဲ့
When the owner came back from the town, his family ate the papaya. So I want to eat it.

ဪ သားရယ်
ဖြစ်ရလေကွယ်
What a pity, my son.

အမယ်အိုဟာ သားဖြစ်သူရဲ့စကားကြောင့်
အတော် စိတ်ထိခိုက်သွားရှာတယ်။

The old woman sympathized her son's word.

အင်း သားလေးဟာ
သူများစားတာ မြင်တော့လည်း
စားချင်ရှာမှာပေါ့၊ လယ်ပိုင်ရှင်
မိသားစုကတော့သူ့ကို ဘယ်ကျွေးပါ့မလဲလေ

Em! When my son saw it, he wanted to eat it. The family of owner won't feed him.

ငါ့သားလေး သိပ်စားချင်ရှာတဲ့
သင်္ဘောသီးမှည့်ကို ကျွေးချင်
လိုက်တာ ကျွေးချင်လိုက်တာ

I want to feed my son with ripening papaya.

အဲဒီအချိန်မှာ အိမ်ရှေ့က ခေါ်သံ
ကြားလိုက်ရတယ်။
At that time she heard
someone calling.

မောင်ဦးရေ မောင်ဦး
ဟေ့ကောင် မောင်ဦး
Maung Oo.

ဟော သား အိမ်ရှေ့က
ခေါ်သံတွေပါလား
Son, someone
is calling you.

ဗြော် ဟုတ်တယ် အမေ
ဒီနေ့ည သားတို့အိမ် မီးကင်းစောင့်ဖို့
အလှည့်ကျတယ်လေ၊ အဲဒီအတွက် နီမောင်တို့
လာခေါ်နေတာအမေရဲ့၊ မီးကင်းရော ရပ်ရွာလုံခြုံရေး
ကင်းရောပေါ့
Tonight I had to do nightwatch. So my
friend Ni Maung calls me to keep
security measure.

ဗြော် အေး
အေး
Yes, my son.

သားဖြစ်သူက အိမ်အတွင်းခန်းထဲ ဝင်သွားပြီး လက်နှိပ်ဓာတ်မီးကို ယူတယ်။

The son entered into the room and took a torchlight.



ပြီးတော့ အိမ်ခြေရင်းဘက်ထောင့်မှာ ထောင်ထားတဲ့ ဝါးရင်းတုတ်ကို ယူတယ်။

Then he took a bamboo stick.






အိမ်ပေါ်က ဆင်းပြီး ...

He stepped down and ...



မီးကင်းတာဝန်ကျသူတွေနဲ့အတူ ရွာစွန်ဆီ ထွက်ခွာသွားတဲ့ သားဖြစ်သူကို ငေးကြည့် ကျန်ရစ်ရင်း အမယ်အိုဟာ တိုးတိုးဖွဖွ ဆုတောင်းမိရှာတယ်။

With other night wachers, they together went to the outskirt of the village. The old woman was left alone and recited a prayer for safety.




အဲဒီလိုနဲ့ ညဉ့်နက်လာတဲ့အခါမှာတော့ အမယ်အိုဟာ အိမ်တံခါးတွေ ပိတ်ပြီး ဘုရားရှိခိုးကာ အိပ်ရာဝင်တော့တယ်။

In the deep of the night, the old woman closed the door and slept.




ဒါပေမဲ့ အမယ်အိုဟာ နဖူးပေါ်
လက်တင်ရင်း ဟိုတွေးဒီတွေးနဲ့
အိပ်မပျော်နိုင် ဖြစ်နေရှာတယ်။
Putting her hand on her forehead, the old woman could not sleep well pondering over the situation.


အင်း ငါ့သားလေးဟာ သင်္ဘောသီးမှည့်ကို တော်တော်စားချင်နေရှာတာပဲ
Em! My son wants to eat papaya eagerly.


ငါ ဝယ်ကျွေး ချင်လိုက်တာ ဝယ်ကျွေး ချင်လိုက်တာ ဒါပေမဲ့ ဝယ်ကျွေးဖို့ ပိုက်ဆံကလည်း မရှိဘူး
I want to buy it and feed him. But I've no money to buy it.
ဟူး ခက်ပါလား
Phew! What a difficult!

အမယ်အိုဟာ စိတ်မကောင်းခြင်းကြီးစွာနဲ့ တွေးရင်း တော်တော် ညဥ့်နက်တဲ့အထိ အိပ်မပျော်နိုင် ဖြစ်နေရှာတယ်။

As she was in deep thought she could not sleep until midnight.



ညဥ့်သန်းခေါင်ယံ ရောက်လုလုမှာမှ မှေးခနဲ အိပ်ပျော်သွားလေတယ်။

At midnight she slept for a short nap.



ရင်ထဲမှာ စိတ်သောက ရှိနေတဲ့အတွက် အမယ်အိုဟာ နှစ်နှစ်ခြိုက်ခြိုက် အိပ်မပျော်ရှာဘဲ သန်းခေါင်ကျော် အချိန်မှာ ဖျတ်ခနဲ နိုးလာတော့တယ်။

After that, in the midnight, she woke up suddenly.



နိုးလာလာချင်းမှာပဲ အမယ်အိုဟာ တစ်စုံ
တစ်ရာသော စိတ်အနှောင့်အယှက်ကြောင့်
စိတ်ထဲ လေးနေသလိုလို ခံစားနေရကြောင်း
သတိပြုမိလေတယ်။

When she woke up, she felt with a heavy mind.











အဲဒီလိုတွေးရင်း အမယ်အိုဟာ တစ်စုံတစ်ရာကို သတိရသွားတယ်။

By thinking over it, she remembered something.









အမယ်အိုဟာ သူမရဲ့ဘဝမှာ တစ်ခါမှ မကြံစည် မတွေးတောဖူးတာကို ကြံစည်တွေးတောလိုက်မိတယ်ဆိုရင်ပဲ ရင်ထဲမှာ တုန်လှုပ်သွားတော့တယ်။

The old woman, she thought the plan that she never did in her lifetime. So her heart started to palpitate.









သူများရဲ့ခြံထဲက သင်္ဘောသီးကို ဝင်ခိုးဖို့ အို ဘုရား ဘုရား ငါဘာတွေမကြံအပ် မစည်ရာ ကြံစည်မိပါလိမ့်
To steal the papaya from other's compound. Oh! My! I am thinking to commit misdeed.


ငါ့ရဲ့ဘဝတစ်လျှောက်လုံး ငါးပါး သီလလုံအောင် ထိန်းလာခဲ့တာ အခု ငါးပါးသီလထဲက အဒိန္နာဒါနာ ကံကို ကျူးလွန်ဖို့ ငါတွေးနေမိပါလား
Throughout my life, I keep precepts. Now I'm thinking to commit theft.


အို မတတ်နိုင်ဘူး သားလေး ခမျာ သင်္ဘောသီးမှည့် သိပ်ကို စားချင်နေရှာတာ
Oh! I can't help myself for the desire of my son.


သားလေးရဲ့ဆန္ဒကို
ငါဖြည့်ဆည်းပေးချင်တယ်
I want to fulfill my son's wish.


ဘာပဲဖြစ်ဖြစ် ငါ သူကြီးအိမ်
ကနေ သွားခူးတာကို ဘယ်သူ
သိနိုင်တာမှတ်လို့
Anyhow, who will know when I take papaya from headman's compound.




ပြီးတော့ သူကြီးရဲ့ခြံထဲက
သဘော်ာပင်မှာက
သဘော်ာသီးတွေ သီးနေတာ အများကြီး
အဲဒီထဲက တစ်လုံးတလေပျောက်သွား
တာကို သူကြီးတို့ မိသားစု ဘယ်သူမှ
သတိမထားမိနိုင်ပါဘူး
And there are plenty of papaya. They won't notice when one is lost.








သူကြီးအတွက် အဲဒီ
သင်္ဘောသီးတစ်လုံးလောက်ဟာ
ဘာမှမပြောပလောက်ပါဘူး
Only one papaya won't
be important for
the headman.


ခက်တာက
သူကြီးက ကပ်စေးနည်း
ပြီး သူ့ဆီကတောင်းလို့ကတော့
လုံးဝ ပေးမှာမဟုတ်ဘူး
But the headman is
a stingy one. He won't
give me when I ask.


အို ဘာပဲဖြစ်ဖြစ်
ငါ့သားလေးအတွက်ပဲ
အရေးကြီးတယ်၊ သားလေးအတွက်
ငါ အနစ်နာခံရမှာပဲ ငရဲကြီးလည်း
ခံလိုက်မယ်
Anyhow, as for me, my son is
more important for me,
even if the hell
punish me.

အမယ်အိုဟာ သားဖောက်ပ်နေတဲ့အတွက် သူ့ရဲ့ တွေးဆချက်ဟာ မှန်သလား မှားသလား မဝေခွဲနိုင်တော့ချေ။ လုပ်သင့်သလား မလုပ်သင့်သလား မဆင်ခြင်နိုင်တော့ချေ။

As she was overwhelmed by her son's desire, she could not distinguish what was right and wrong.

ဒီလိုနဲ့ စောင်တစ်ထည်ကို ကိုယ်အထက်ပိုင်းမှာခြုံပြီး တဲအိမ်လေးထဲကနေ တိတ်တိတ်လေး ထွက်လာခဲ့တော့တယ်။

So she wrapped a blanket around her body and got out stealthily.





နွေဦးကာလဆိုပေမယ့် ဆောင်းရဲ့အငွေ့အသက်တို့လည်း ကျန်သေးတဲ့အတွက် ရွာလယ်လမ်းဟာ တိတ်ဆိတ်အေးစက်လို့နေတယ်။

Though it was spring, the cool of winter remained. All was silent in the village lane.




လဆန်းလရဲ့ လရောင်မှုန်ဝါးဝါးဟာ သစ်ရွက် အကြိုအကြားကနေ လူသူကင်းမဲ့တိတ်ဆိတ်နေတဲ့ ရွာလယ်လမ်းအပေါ် ထိုးကျနေတယ်။
The dim light of crescent moon shed on the street.


အမယ်အိုဟာ ကွက်တိကွက်ကြား လရောင်ကို အားပြုလျက် ရွာလမ်းဘေးက သစ်ရိပ်တွေကို ခိုပြီး ရွာလယ်ပိုင်းဆီ ကုပ်ကုပ် ကုပ်ကုပ်နဲ့ လာခဲ့ရာ သူကြီးရဲ့အိမ်ရှေ့ဆီ ရောက်လာတော့တယ်။
Relying on glimmering light, she went to the house of headman.
အင်း သူကြီးရဲ့အိမ်တော့ ရောက်လာပြီ
Em! Now I've been in front of headman's house.

အမယ်အိုဟာ မည်းမှောင်တိတ်ဆိတ်နေတဲ့ သူကြီးရဲ့အိမ်ကြီးဆီရော ခြံဝင်းထဲရော ရှာလယ်လမ်း
တစ်လျှောက်နဲ့ ဝန်းကျင်ကိုပါ ဝေ့ဝဲကြည့် အကဲခတ်လိုက်ပြီးတဲ့နောက် ...

The old woman glanced around the compound and house stealthily.








အနားက ဒန့်သလွန်ပင်မှာ ကပ်ထောင်ထားတဲ့ တံချူကို ယူလိုက်ကာ ...

She took the pole that was leaning against a horseradish tree.



နောက်ဆုံးက မှည့်ဝင်းစပြုနေတဲ့ သင်္ဘောသီးကြီးရဲ့အညှာကို ထိုးချတော့တယ်။

She thrust the lowest and ripening papaya fruits.



ဒါပေမဲ့ အမယ်အိုဟာ မမြင်မစမ်းနဲ့ ဖြစ်နေတဲ့အတွက် သင်္ဘောသီးရဲ့အညှာကို မထိုးမိတော့ သင်္ဘောသီးက ပြုတ်ကျမလာဘူး။

As her eye-sight was not good, the papaya fruit did not fall down.



ဟယ် မထူးပါဘူး
အပင်ကို လှုပ်ချမှ မှည့်နေတဲ့
အသီးဆိုတော့ လှုပ်ရင်ကြွေကျလာမှာပဲ
သင်္ဘောသီးမရလို့တော့ မဖြစ်ဘူး

Em! I must shake the papaya tree. The ripening papaya fruit will fall down.

အမယ်အိုဟာ သင်္ဘောသီးရလိုဇော
ကပ်နေတဲ့အတွက် ထွေထွေထူးထူး
စဉ်းစားမနေနိုင်တော့ဘဲ တံချူကို
သင်္ဘောပင်ရဲ့ပင်စည်မှာပဲ ထောင်
လိုက်ပြီး အားစိုက်ကာ ပင်စည်ကို
လှုပ်လိုက်တော့တယ်။

As she is eager to get the papaya fruit, she thought nothing and shook the tree.

ဖေစိတ်အပြည့်နဲ့ အတင်းလှုပ်လိုက်တဲ့အတွက် အပွတ်လိုက်သီးနေတဲ့ သင်္ဘောသီးတွေထဲက အောက်ဆုံးအလုံးဟာ ကြွေကျလာသလို ပင်စည်မှာ ထောင်ထားတဲ့ ဝါးတံချူဟာလည်း လဲကျလာတော့တယ်။

As she shook forcibly, the lowest papaya fruit fell down and the bamboo pole also fell too.



အမယ်အိုဟာ ဝါးတံချူကို ဂရုမပြုနိုင်ပါဘူး။ ကြွေကျလာတဲ့ သင်္ဘောသီးမှည့်ကြီး မြေပေါ်ကျပြီး ပွဲ့ရွဲ့သွားမှာစိုးတဲ့အတွက် အောက်ကနေ စောင်နဲ့ ကပျာကသီ ခံလိုက်ရတယ်။

The old woman did not notice the fall of bamboo pole and she spread the blanket to the falling fruit lest it should break into pieces.



အဲဒီအချိန်မှာပဲ ဝါးတံချူတံကြီးဟာ မြေပြင်ပေါ် အရှိန်ပြင်းစွာ လဲကျတော့တယ်။

The bamboo pole fell on the ground with force.



တိတ်ဆိတ်နေတဲ့ညဆိုတော့ အသံက အတော်ကျယ်သွားတယ်။ အဲဒီအသံကို ကြားလိုက်ရသူတွေကတော့ ရွာလယ်လမ်းအတိုင်း ကင်းလှည့်စစ်လာကြတဲ့ လူတစ်စုပဲ ဖြစ်ပါတယ်။

As the night was silent the sound of the falling pole seemed loud. When the nightwatchers heard it.




ကင်းသမားတွေဟာ မသင်္ကာဖြစ်သွားပြီးခြံရှေ့မှာ ရပ်ကာ ခြံထဲလှမ်းကြည့်လိုက်ကြတယ်။

With suspicious eyes, the nightwatchers looked into compound.



အမယ်အိုကတော့ ဘာကိုမှ ဂရုမပြုမိဘဲ သင်္ဘောသီးအမှည့်ကြီးကို စောင်နဲ့ ဝမ်းသာအားရ ထွေးပွေ့လိုက်တော့တယ်။

The old woman, unknowingly, she wrapped the papaya fruit with her blanket.















ခြံဝကနေ လှမ်းအော်လိုက်တဲ့ အသံနဲ့အတူ လက်နှိပ်ဓာတ်မီး ရောင်တစ်ခုဟာ သူမဆီ ကျရောက်လာရာ ...

The shout was followed by torch-light.



ဟင် ဘုရားရေ

Hm! Oh! My!

အမယ်အိုဟာ မိုးကြိုးအပစ်ခံလိုက်ရသလို လန့်ဖျပ်တုန်လှုပ်သွားပြီး စောင်ကို ခေါင်းမြီးခြုံလိုက်ကာ ခြံနောက်ဘက်ဆီ လှည့်ပြေးတော့တယ်။

The old woman was frightened and covered her face with the blanket and ran into the backyard.





ဟာ ပြေးပြီ
ပြေးပြီ
Heh! He runs away.

သူခိုး သူခိုး
သူခိုးဗျို့ သူခိုး
Thief! Thief!

လိုက် လိုက်
Follow it.

ကင်းသမားတွေဟာ ပုဏ္ဏရိပ်ခြံစည်းရိုးကို ခုန်ကျော် ပြေးဝင်လာကြပြီး အမေအိုရဲ့နောက် အော်ဟစ်ကာ ပြေးလိုက်ကြတော့တယ်။

The nightwatchers chased the old woman.

ဟေ့ သူခိုး မပြေးနဲ့
မပြေးနဲ့
Thief! Don't run away.


အိုး ဒုက္ခပါပဲ သားလေးအတွက်
သင်္ဘောသီးရခါမှ လူမိခံရတော့တယ်
Oh! What a trouble, I'm going to be caught when I get a papaya fruit for my son.


သားလေးရေ သားလေးစားဖို့
အမေ့ရဲ့လက်ထဲမှာ သင်္ဘောသီး
မှည့် ရောက်နေပြီကွဲ့ ရောက်နေပြီ
Son, I've got papaya fruits for you, now.


အမယ်အိုဟာ ခြံနောက်က ပုဏ္ဏရိပ်စည်းရိုးကို တိုးဝှေ့ကာ
မမြင်မစမ်းနဲ့ ခြံပြင်က လယ်ကွင်းဘက် ပြေးဖို့ ကြိုးစားပေမယ့်
ကင်းသမားတစ်ယောက်ဟာ သူမကို မိလာပါပြီ။
The old woman tried to trudge through the hedge but the watchman caught her.


ကဲကွာ သူခိုး သေစမ်း
Prepare to die, thief.
ဖြောင်း
အမယ်လေး
Oh! My!


ဝါးရင်းတုတ်နဲ့ ခေါင်းနောက်ကို အရိုက်ခံလိုက်ရတဲ့ အမယ်အိုဟာ မြေပြင်ပေါ် ပစ်လဲကျသွားပါတော့တယ်။
Her back of head was hit and she fell down.


ရိုက်လိုက်တဲ့ ကင်းသမားက သူ့နောက်က ပြေးလိုက်လာတဲ့သူတွေကို အော်ပြောလိုက်ပြီးနောက် အမယ်အိုခေါင်းမြီးခြုံထားတဲ့စောင်ကိုဆွဲဖယ်လိုက်တော့တယ်။
The watchman who struck told his follower. When they opened the blanket from the old woman.
သူခိုးကို မိပြီဟေ့ လာကြ
I've caught the thief.

စောင်ခြုံအောက်က ထွက်ပေါ်လာသူကို လက်နှိပ်ဓာတ်မီးနဲ့ အနီးကပ်ထိုးကြည့်လိုက်တဲ့ အဲဒီကင်းသမားဟာ အကြီးအကျယ် ထိတ်လန့်တုန်လှုပ်သွားတော့တယ်။

When the watchman looked at her with torch light, they were amazed.






ခေါင်းအရိုက်ခံလိုက်ရလို့ မေ့ခနဲ ဖြစ်သွားတဲ့အမယ်အိုဟာ ချက်ချင်းသတိလည်လာပြီး မျက်လုံးကို အားယူဖွင့်ကြည့်လိုက်တော့ လရောင်အောက်က သူမရဲ့သား မျက်နှာကို အနီးကပ် တွေ့လိုက်ရတော့တယ်။

She regained consciousness and opened her eyes. She saw her own son in the moonlight.





သား သားလေး
Son, my son.

အမေ အမေ
Mother!

ရော့ သား သားအတွက် သင်္ဘောသီးမှည့် သား စား စားဖို့
Take this papaya. Eat it.

အမယ်အိုဟာ ပါးစပ်ကနေ သွေး ပွက်ခနဲ တစ်ချက်ထွက်ပြီး ဖက်လည်ကျသွားတော့တယ်။
The old woman vomitted blood out and panted her last breath.




ကင်းသမားလူငယ်ဟာ သူ့လက်ထဲရောက်လာတဲ့ သဘော်သီးကြီးကို ကြည့်ပြီး အရာရာကို နားလည်လိုက်ပါပြီ။

By looking at the papaya, the watchman realized what had happened to his mother.



သူ စားချင်လှချေရဲ့လို့ ပူဆာမိလို့ ဝယ်မကျွေးနိုင်ရှာတဲ့ မိခင်ကြီးဟာ သူကြီးရဲ့ခြံထဲ ခိုးဝင်ပြီး သူ့အတွက် သဘော်သီး လာခိုးရှာတယ်ဆိုတာကို သူ သဘောပေါက် သိရှိသွားတယ်။

He realized that he had said that he wanted to eat papaya. So his mother stole the papaya in the compound of headman.



ဖြစ်ရလေ အမေရယ် သား
အတွက် အမေ ဒီလိုလုပ်ရတယ်လို့
ဖြစ်ရလေဗျာ ဖြစ်ရလေ

Mother you've done wrong
for me. What a pity!

တစ်သက်လုံးက သူတစ်ပါးရဲ့
ပစ္စည်းဆိုရင် အပ်တိုတစ်ချောင်း
တောင် မယူခဲ့တဲ့ အမေဟာ
ခုတော့ သားအတွက် သူခိုး
မကြီးဖြစ်ရပြီပေါ့

Throughout her life she
kept precept. But now
she become a thief
for her son.




ဖြစ်ရလေ အမေရယ် ဖြစ်ရလေဗျာ

You've committed such a misdeed.

ကင်းသမား လူငယ်ဟာ မိခင်ကြီးရဲ့အလောင်းကို ပွေ့ပိုက်လျက် ငိုကြွေးလို့မဆုံးတော့ပါ။

The watchman embraced his dead mother and cried inconsolably.

ကလေးတို့ရေ သားဖြစ်သူအတွက်
လွဲမှားစွာ စွန့်စားခဲ့ရှာတဲ့ အမယ်အိုနဲ့
သူမရဲ့သားလေးတို့ ကံကြမ္မာဆိုးရပုံက
ရင်နာစရာပါပဲနော်
Children. The old woman risked her life wrongly for the sake of her son. It's a tragic story.




အေး မိဘဆိုတာ အဲဒါပဲကွဲ့ သားသမီးကို ချစ်တဲ့စိတ်နဲ့ စွန့်လွှတ်အနစ်နာခံတတ်ကြတာ မိဘတွေပါပဲ
That's the love of parents. Parents used to sacrifice their lives for their children.
သားဖြစ်သူအတွက် ငရဲကျမှာတောင် မကြောက်ဘဲ မကောင်းမှုကို ကျူးလွန်မိတဲ့အမယ်အိုရဲ့အဖြစ်ကတော့ သံဝေဂယူစရာပေါ့ကွယ်
She dared to face the hell for the sake of her son. So she had committed the misdeed.

သားတို့ မိဘရဲ့မေတ္တာကို နားလည်ပါပြီ ဘုန်းဘုန်း
We understand the love of parents.

သမီးတို့လည်း မိဘတွေကို ဟိုဟာပူဆာ ဒီဟာပူဆာ မလုပ်တော့ပါဘူး ဘုန်းဘုန်း
We don't wheedle our parents anymore.

အေး အေး မိဘတို့ရဲ့မေတ္တာကို နားလည်တဲ့ သားကောင်း သမီးကောင်းတွေ ဖြစ်ကြပါစေကွယ်
May you be the polite and clever children.

## ကျောင်းသင်္ခန်းလှူခြင်းအကျိုး

## Benefit of donating the monastery

အင်း ကလေးတို့ကို ဒီတစ်ခါတော့
ဘုန်းဘုန်းက ဗုဒ္ဓဘာသာနဲ့ပတ်သက်ပြီး
ဗဟုသုတရစေဖို့ သိသင့်သိထိုက်တဲ့
အကြောင်းခြင်းရာတွေကို ပြောပြမယ်ကွဲ့.

Children, this time I will tell you
about the knowledge concerning
with Buddhism.

အေး ဘုန်းဘုန်းပြောပြမယ့်
အကြောင်းအရာတွေကတော့ ဗုဒ္ဓမြတ်စွာ
ဘုရားရဲ့သာသနာတော်မှာ ဘုရားရှင်နဲ့
သံဃာတော်တွေ သီတင်းသုံးဖို့ ကျောင်း
သင်္ခန်းစတင်ဖြစ်ပေါ်လာပုံနဲ့ ကျောင်း
သင်္ခန်းလှူခြင်းရဲ့အကျိုးတို့ပဲကွဲ့. ဒီလို ဒီလို

I would like to tell you the
benefit of donating the
monastery for the monks
to reside.

တင်ပါ့ ဘုန်းဘုန်း
Yes,
Your Highness.

ဂေါတမမြတ်စွာဘုရားရှင် ကိုယ်တော်မြတ်ကြီးဟာ ဘုရားဖြစ်တော်မူပြီးတာနဲ့ တစ်ပြိုင်နက် မိဂဒါဝုန်တောအုပ်ထဲမှာ ပဉ္စဝဂ္ဂီငါးဦးကို ဓမ္မစကြာ တရားဦး ဟောကြားတော်မူလေတယ်။

When Gautama Buddha attained Buddhahood, he preached five monks about the wheel of Dhamma in the Mighadawun.

အဲဒီနောက် အနတ္တလက္ခဏ သုတ်တော်ကို ဟောကြား တော်မူရာ ...

The Lord Buddha preached anatta-lekhana sutta.



တရားဒေသနာတော်ရဲ့အဆုံးမှာ ပဉ္စဝဂ္ဂီငါးဦးဟာ အသဝေါကုန်ခမ်းပြီး ရဟန္တာတွေ ဖြစ်ကုန်ကြတယ်။

At the conclusion of preaching, the five monks attained arhathood.

အဲဒီနောက် ယသ သူဌေးသားအပါအဝင် မိတ်ဆွေ (၅၅)ယောက်တို့ဟာ ဘုရားရှင်ရဲ့ ဒေသနာတော်ကို ကြားနာပြီးတဲ့နောက် ရဟန္တာများ ဖြစ်လာကြတယ်။

Then the 55 youths including Yattha the son of the rich man became arhathood after they had listened Lord Buddha's sermon.



ဒီလိုနဲ့ မြတ်စွာဘုရား ဘုရားအဖြစ်ကိုရရှိပြီးတဲ့ ပထမနှစ် (ပထမဝါ)မှာပဲ သံဃာတော်ပေါင်း (၆၀) ရှိလာခဲ့တယ်။

In this way, Lord Budddha's first Buddhistic lent, there were 60 monks altogether.



ဝါလကင်းလွတ် သီတင်းကျွတ်တဲ့အခါမှာတော့ မြတ်စွာဘုရားဟာ တပည့်သာဝကတို့ကို စုဝေးစေပြီး တာဝန်ပေးတော်မူတယ်။

When the first Buddhistic lent was over, Lord Buddha let the monks to gather and assigned them.

ချစ်သားတို့
ဝေနေယျသတ္တဝါ
အပေါင်းရဲ့အကျိုးအတွက် ငါ
ဘုရားရဲ့တရားဓမ္မတွေကို အရပ်
ရှစ်မျက်နှာဆီသွားရောက်ဖြန့်ဝေကြလော့

My disciples, for the sake of all the creature, propagate my Buddhistic religion to places in eight cardinal point.

ငါကိုယ်တော်တိုင်လည်း
အနယ်နယ်အရပ်ရပ်ဆီ ဒေသ
စာရီ ကြွချီတော်မူပြီး ...

I'll also tour myself to propagate my dispensation.


ဝေနေယျတို့ကို တရား ဒေသနာတော် ဟောပြော ချေချွတ်တော်မူမယ်
I'll deliver them from ignorance.


ချစ်သားတို့ သာသနာ့ဝန် ကို ကျေပွန်အောင် ထမ်း ရွက်ခဲ့ကြပေတော့
My disciples, serve this duty up to accomplishment.




ဒီလိုနဲ့ ဘုရားရှင်ရဲ့ တပည့်ရဟန္တာတို့ဟာ အရပ်ရှစ်မျက်နှာဆီ သာသနာပြုဖို့ ကြွချီသွားကြတော့တယ်။
In this way, Lord Buddha's disciples went to eight regions.





မြတ်စွာဘုရားရှင်ဟာ ကိုယ်တော်တိုင် အနယ်နယ်အရပ်ရပ်ဆီ ကြွချီပြီး တရားဒေသနာတော်များ ဟောကြားကာ သာသနာပြုရာ •••

Lord Buddha went to various places to propagate his religion.

မကြာမီမှာပဲ ဥရုဝေဠကဿပ တို့ ရသေ့သီနောင်တစ်ထောင် ဟာလည်း အကျွတ်တရားရပြီး ရဟန္တာများ ဖြစ်သွားကြတယ်။

Not long after, one thousand of hermits were delivered from ignorance and became arhats.




အဲဒီအခါ မြတ်စွာဘုရားရဲ့သံဃာ ပရိသတ်ဟာ အတော်ကို များပြားစည်ကားလာတော့တယ်။
At that time so many monks came under the guidance and teaching of Lord Buddha.


ရာဇဂြိုဟ်ပြည့်ရှင် ဘုရင် ဗိမ္ဗိသာရဟာ ဘုရားရှင်နဲ့သံဃာတော်တွေအတွက် ကျောင်းသခ်န်းနေရာ လှူဒါန်းချင်လာတယ်။
The king Bimbithara of Rajagruha wanted to donate monastery for Lord Buddha and his disciples.

ဒါနဲ့ပဲ ဗိမ္ဗိသာရမင်းကြီးဟာ ဘုရားရှင်နဲ့ သံဃာတော်တွေ သီတင်းသုံးနိုင်ဖို့ ဝါးတောကြီးကို လှူဒါန်းတော်မူတယ်။

So the king Bimbithara donated the grove of bamboo to Lord Buddha and his disciples.

အရှင်မြတ်ဘုရား ဒီ ဝါးတောကြီးကို လှူဒါန်းလိုပါတယ် ဘုရား

Your Highness, I would like to donate this grove of bamboo as your residence.

ကောင်းပါပြီ ဒကာ သင့်ရဲ့လှူဒါန်းမှုကို ငါဘုရား လက်ခံပါတယ်

Well, my king, I'll accept your donation.

ဒီလိုနဲ့ မြတ်စွာဘုရားနဲ့ တပည့်သာဝကတွေဟာ ဝါးတောကြီးထဲက သစ်တစ်ပင် ဝါးတစ်ပင်အောက်မှာ သီတင်းသုံးရင်း တရားကျင့်ကြံ အားထုတ်နေကြတော့တယ်။

So Lord Buddha and his disciples resided in the grove of bamboo and concentrated the meditation.








ဒါပေမဲ့လည်း၊ ဘုရားရှင်နဲ့ပ သံဃာတော်တွေဟာ သစ်ပင်အရင်း၊ ဝါးပင်အရင်းတွေမှာ မိုးလေ မလုံမခြုံနဲ့ သီတင်းသုံးနေထိုင်တော်မူကြတာကို ကြည့်ပြီး ...

But Lord Buddha and his disciples sat at the foot of the bamboo and they did not have proper shelter from rain.



ရာဇဂြိုဟ်သူဌေးဟာ သနားကရုဏာဖြစ်ပေါ်လာကာ ကျောင်းသင်္ခန်းဆောက်လုပ်လှူဒါန်းလိုစိတ် ပြင်းပြစွာ ဖြစ်ပေါ်လာတော့တယ်။

So the rich man of Rajagruha wanted to donate monastery.




ဒါနဲ့ သံဃာတော်တစ်ပါးကို ချဉ်းကပ်ပြီး လျှောက်ထား တော့တယ်။
So he approached to a monk and told about it.
အရှင်ဘုရားကို လျှောက်တင်ခွင့်ပြုပါ ဘုရား
Please let me tell something.


ဘာများတုန်း ဒကာကြီးရဲ့
What's that lay-devotee?


ဒီလိုပါ ဘုရား အခု မြတ်ဘုရားနဲ့တကွ ကိုယ်တော်တို့ဟာ သီတင်း သုံးနေထိုင်စရာ မိုးလုံလေလုံ အဆောက်အဦတစ်ခု အမှန်တကယ် လိုအပ်ပါတယ် ဘုရား
Lord Buddha and monks will need shelter from rain.


မှန်ပါတယ်
ဒကာကြီး
Yes, lay-devotee.


အဲဒါကြောင့် တပည့်တော်
ကျောင်းဆောက်ခွင့် ရလိုပါတယ်
ဘုရား
So I would like to build
a monastery and donate
it.


အင်း
မြတ်စွာဘုရားကတော့
ကျောင်းကို ခွင့်မပြုဖူး
သေးဘူး၊ ဒါပေမဲ့ ကျုပ်
လျှောက်တင်ကြည့်ပါဦးမယ်လေ
Em! Lord Buddha did
not allow to accept
such a donation.
I'll report about it.

တင်ပါ့ဘုရား ဘုရားရှင်ဆီက
ခွင့်ပြုပြီဆိုတာနဲ့ တပည့်တော်
ဒီနေရာမှာပဲ ကျောင်းကြီး
ဆောက်လုပ်လှူဒါန်းပါ့မယ်ဘုရား
If Lord Buddha allow me,
I'll build a monastery
and donate it.

သံဃာတော်တို့လည်း ဘုရားရှင်ကို လျှောက်ထား မေးမြန်းတော်မူကြတယ်။
The monks reported about it to Lord Buddha.

ရာဇဂြိုဟ်သူဌေးက
အရှင်မြတ်ဘုရားနဲ့ သံဃာတော်
တွေ သီတင်းသုံးနေထိုင်ဖို့
ကျောင်းဆောက်လုပ်လှူဒါန်း
လိုပါတယ်တဲ့ဘုရား
The rich man from Rajagruha
wants to build a monastery
here and donate it to you.

ခွင့်ပြုနိုင် မပြုနိုင်
မိန့်ကြားတော်မူပါ
ဘုရား
Tell us will you
agree or not.


ချစ်သားတို့
ငါဘုရားရဲ့သာသနာတော်မှာ
ကျောင်းဒကာ ဒကာမကြီးဆိုသူတွေ
ပေါ်ပေါက်လာပြီး ကုသိုလ်တရားကို
ပြန့်ဝေနိုင်စေဖို့နဲ့
My disciples, in my religion, there should be lay-devotees to propagate my preaching.


ချစ်သားရဟန်းတို့လည်း
ဘေးကင်းလုံခြုံစွာနေရဖို့အတွက်
ကျောင်းဆောက်လုပ် လှူဒါန်းခြင်းကို
ငါဘုရား ခွင့်ပြုတော်မူတယ်
I'll allow this donation to get shelter for my disciples.


ရဟန်းတို့လည်း ဘုရားရှင်က ခွင့်ပြု
တဲ့အကြောင်း ရာဇဂြိုဟ်သူဌေးကို
အကြောင်းကြားလိုက်ကြတယ်။
The monks told the rich man of Rajagruha that Lord Buddha allowed his donation.

ရာဇဂြိုဟ် သူဌေးလည်း ချက်ချင်းပဲ ကျောင်းသင်္ခမ်းပေါင်း အလုံး (၆၀) ဆောက်လုပ်ပြီးတော့တယ်။

The rich man of Rajagruha built 60 monasteries immediately.



ကျောင်းသင်္ခမ်းတွေ ဆောက်လုပ်ပြီးစီးတဲ့အခါ ရာဇဂြိုဟ် သူဌေးသား ဘုရားအမှူးရှိတဲ့ သံဃာတော်အရှင်သူမြတ်တို့ကို ကိုယ်တိုင်ကိုယ်ကျ ဆွမ်းကပ်လေတယ်။

After the monasteries had been built, the rich man of Rajagruha offered meal to Lord Buddha and his disciples.



အဲဒီလို ဆွမ်းဆက်ကပ်ပြီးတဲ့နောက် ရာဇဂြိုဟ်သူဌေးဟာ ကျောင်းဆောက်လုပ် လှူဒါန်းရတဲ့ အကျိုးဖလကို မေးလျှောက်လေတယ်။

After the rich man of Rajagruha had offered meal, he asked the benefit of the donation of monasteries.










ကျောင်းသင်္ခန်းဟာ
အပူအအေး
ရာသီဥတုဒဏ်တို့ရဲ့ရန်ကနေ
ကာကွယ်ပေးနိုင်တယ်
The monastery protects from the harm of season.
ကျောင်းသင်္ခန်း
လှူဒါန်းသူတွေဟာလည်း
ဘဝတိုင်း ဘဝတိုင်း ကိုယ်စိတ်
နှလုံး ပူပန်ခြင်း သောကများပါဒရဲ့
ဘေးရန်က လွတ်မြောက်ရခြင်းဆိုတဲ့
အကျိုးဖလကို ရရှိကြတယ်ကွဲ့
The donor of the monastery will free from anxiety, and enemy.



နောက် ကျောင်းသခ်န်းဟာ
သီတင်းသုံးတဲ့ သံဃာတော်တွေကို
ကျား ခြင်္သေ့စတဲ့ သားရဲတို့
ရန်ပြုမယ့်ဘေးကနေ ကာကွယ်
ပေးထားတယ်

The monastery protect the
monks from the harms
of lions and tigers.

အဲဒီလိုပဲ ကျောင်းသခ်န်း
လှူဒါန်းသူတွေဟာ ဘဝတိုင်း
မှာ ကျား ခြင်္သေ့စတဲ့သားရဲ
တို့ရဲ့ဘေးရန်ကနေ ကင်းလွတ်
စေတယ်ကွဲ့

So the donor can be spared
from the harms of
lions and tigers.


ဒါ့အပြင် လှူဒါန်းတဲ့ ပုဂ္ဂိုလ်တွေမှာ ခွန်အားဗလကောင်းခြင်း ရုပ်ရည်ပြေပြစ်ခြင်း ချမ်းသာစေခြင်း မျက်စိအမြင်ကြည်လင်ကာ အမြင်အာရုံ ကောင်းစေခြင်းစတဲ့ အကျိုးဖလတို့ ခံစားရတယ် ဒကာ
Moreover, the donor has great strength, with fine figure and good sight.


အဲဒီလို ကျောင်းအလှူဟာ အမြတ်ဆုံး အလှူတစ်ခုမို့ လှူသင့်လှူထိုက်တဲ့ အလှူပဲ ဖြစ်ပါတယ် ဒကာ
Donatiing the monastery is the most benefit among other donation.
သာဓု သာဓု သာဓုပါဘုရား
Well done! Well done! Well done!


ကဲ ကလေးတို့ရေ ဗုဒ္ဓရဲ့သာသနာတော်မှာ သံဃာတော်တွေအတွက် ကျောင်းသင်္ခန်းဆောက်လုပ် လှူဒါန်းရခြင်းရဲ့အကျိုးတွေကို သိသွားကြပြီပေါ့ ဟုတ်လား
Children, now you already know the benefit of donating the monastery, don't you?
တင်ပါ့ ဘုရား သိသွားကြပါပြီ
Yes, Your Highness.
အေး ကလေးတို့လည်း အရွယ်ရောက်လာချိန်မှာ ကျောင်းဒကာ ဒကာမတွေ ဖြစ်အောင် ကြိုးစားကြပေါ့ကွယ်
Well, when you grow up to adult, you must try to build and donate the monastery.
တင်ပါ့ဘုရား
Yes, Your Highness.
ပြီး
End.